ကုမ္ပဏီအမည် - Kaung Myat Company Limited (ကောင်းမြတ် ကုမ္ပဏီ လီမိတက်)

လုပ်ငန်း - သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၃၁-၁၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂/၂၀၁၇) သို့ တင်ပြခြင်း | ၁၀-၁-၂၀၁၇ | | |
| ၃ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) စက်မှုဝန်ကြီးဌာန | ၁၉-၁-၂၀၁၇ | ၃၀-၁-၂၀၁၇ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန (ယခင် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၂-၁-၂၀၁၇ | ၂၀-၁-၂၀၁၇ | |
| | (ဂ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၉-၁-၂၀၁၇ | ၁၄-၂-၂၀၁၇ | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၃-၁-၂၀၁၇ | | |
| ၅ | MIC အစည်းအဝေးသို့ တင်ပြခြင်း | ၅/၂၀၁၇<br>( ၁၃-၃-၂၀၁၇) | | |
| ၆ | **စုစုပေါင်း ကြာမြင့်ရက်** | **(၆၂) ရက်** | | |

ကုမ္ပဏီအမည် - Kaung Myat Company Limited (ကောင်းမြတ် ကုမ္ပဏီ လီမိတက်)

အဖွဲ့အစည်းပုံသဏ္ဍာန် - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း

တည်နေရာ - ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) မြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ် ၁၃၁၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃ရှိ မြေ ဧရိယာ (၂.၇၆၁) ဧက

စုစုပေါင်းမတည်ငွေရင်း - ကျပ် ၂၇၅၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၂.၀၉ သန်း အပါအဝင်)

လုပ်ငန်းသက်တမ်း - ကနဦး ၅၀ နှစ်

အရင်းကြေကာလ - ၅ နှစ် ၁ လ

IRR - ၂၄%

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀.၇၇ | - |
| ၄ | ဝင်ငွေခွန် | ၁၅၂၄.၅၆ | ၃၂၂၈.၇၅၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ၁၆၅၀.၀၀၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၅၉.၂၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၂.၁၇၉ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၉၈ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၁၅၂၇.၄၉ | ၄၉၄၀.၇၉၄ |
| ၁၁ | Cost : Benefit | ၁ : ၃ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Myat Co., Ltd.မှ သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာ ခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Kaung Myat Co., Ltd. |
| | ကမကထပြုသူ | ဦးမောင်မောင်မြင့်(အဘ-ဦးစိန်ဝင်း) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေတိုင်းရပ်ကွက်အမှတ် ၁၁၃၊ မြေကွက်အမှတ် ၁၃၁၊ စက်မှု ဇုန်၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ |
| | မြေပိုင်ရှင် | - ဦးမောင်မောင်မြင့် |
| | မြေအကျယ်အဝန်း | - ၂.၇၆၁ ဧက (၁၁၁၇၃.၃၈၁ စတုရန်းမီတာ) |
| | မြေငှားရမ်းခ | - တစ်နှစ် ငှားရမ်းခ ၁၈,၀၀၀,၀၀၀ ကျပ် |
| ၃။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - **ကျပ် ၂၇၅၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၂.၀၉ သန်း အပါအဝင်)** |
| | | - ကျပ်/သန်း |
| | ငွေသား | - ၁၀၅.၇၀ |
| | စက်ပစ္စည်း | - ၃၈၇.၄၄ (US$ ၀.၃၁ သန်း) |
| | ကုန်ကြမ်း | - ၈၈၁.၈၄ (US$ ၀.၇၁ သန်း ) |
| | လျှပ်စစ်ပစ္စည်း | - ၅၆.၀၀ (US$ ၀.၀၄ သန်း ) |
| | အဆောက်အဦ | - ၁၂၁၃.၀၀ (US$ ၀.၉၇ သန်း) |
| | ပရိဘောဂ | - ၃၆.၈၇ |
| | လုပ်ငန်းသုံးယာဉ် | - ၆၉.၁၅ (US$ ၀.၀၆ သန်း အပါအဝင်) |
| | စုစုပေါင်း | ၂၇၅၀.၀၀ (US$ ၂.၀၉ သန်း အပါအဝင်) |



memo.doc

| | | |
|---|---|---|
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းမည့် ပစ္စည်းများ | - အမေရိကန်ဒေါ်လာ ၂.၀၉တန်ဖိုးခန့်ပစ္စည်းများကို ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းမည်ဖြစ်ပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | - ၂၃၅ ဦး |
| | ပြည်တွင်း | - ၂၃၀ ဦး (အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၈,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၅ ဦး (လစာမှာ US$ ၁၂၅၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀% ၊ ပြည်ပ ၉၀% |
| ၉။ | ဝင်ငွေ(၆ နှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၅၆.၉၁ သန်း |
| | အသုံးစရိတ်(၆ နှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၅၆.၀၇ သန်း |
| | အသားတင်အမြတ် (၆ နှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၀.၈၄ သန်း<br>(1 US $ = 1250 Kyats ဖြင့် တွက်ချက်ထားပါသည်။) |
| ၁၀။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - အမေရိကန်ဒေါ်လာ ၀.၃၇ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - အမေရိကန်ဒေါ်လာ ၀.၂၆ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၄% |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၆၂၀,၀၀၀ kWh |



memo.doc

၁၂။ နှစ်စဉ်ထုတ်လုပ်မှု (၆ နှစ်မြောက်)

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း (ကျပ် /CBM) |
|---|---|---|---|
| | ပြည်တွင်းရောင်း ၁၀% | | |
| (က) | Face Veneer | ၄၈၆၂ | ၉၃၇,၅၀၀ |
| (ခ) | Core Veneer | ၃၉၈ | ၅၆၂,၅၀၀ |
| (ဂ) | Teak Veneer | ၁၆၄ | ၆,၁၈၇,၅၀၀ |
| (ဃ) | Plywood | | |
| | - 3.20MM | ၁၁၄ | ၈၉၃,၇၅၀ |
| | - 6 MM | ၇၄ | ၈၈၀,၀၀၀ |
| | - 12 MM | ၇၄ | ၆၈,၅၀၀ |
| | - 19 MM | ၂၃၅ | ၈၉၃,၇၅၀ |
| (င) | Sawn Timber | ၅၄၇ | ၇၈၁,၂၅၀ |

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း (US$/CBM) |
|---|---|---|---|
| | ပြည်ပရောင်း ၉၀% | | |
| (က) | Face Veneer | ၄၃,၇၅၄ | ၈၀၀ |
| (ခ) | Core Veneer | ၃,၅၈၂ | ၆၀၀ |
| (ဂ) | Teak Veneer | ၁,၄၇၈ | ၄၈၀၀ |
| (ဃ) | Plywood | | |
| | - 3.20MM | ၁,၀၂၅ | ၈၈၀ |
| | - 6 MM | ၆၆၃ | ၈၀၀ |
| | - 12 MM | ၆၆၃ | ၇၈၀ |
| | - 19 MM | ၂,၁၁၁ | ၈၀၀ |
| (င) | Sawn Timber | ၄,၉၂၅ | ၇၆၀ |

၁၃။ CSR

- လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility)အတွက် လုပ်ငန်းမှ နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂%ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါ သည်။

၁၄။ မီးဘေးကြိုတင်ကာကွယ်ရေး

- မီးဘေးကာကွယ်ရေးစီမံချက် ရေးဆွဲတင်ပြထားပါသည်။

| | | |
|---|---|---|
| ၁၂။ | အခြားတင်ပြချက် | - မြေအထောက်အထားအဖြစ် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဦးမောင်မောင်မြင့် အမည်ဖြင့် ချထားပေးသည့် နှစ် ၆၀ ဂရန်၊ တည်နေရာပြမြေပုံနှင့် အဆောက်အဦ Layout Plan တို့ကိုတင်ပြထားပါသည်။<br>- Kaung Myat Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင် မိတ္တူ၊ ပုံစံ(၆/၂၆)နှင့်MOA၊ AOAမိတ္တူတို့ကိုတင်ပြထားပါသည်။<br>- ဒါရိုက်တာ စာရင်း၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများကို တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် မြဝတီဘဏ် လီမိတက်တွင် ဦးမောင်မောင်မြင့်၊ ဦးကျော်နိုင်ဝင်း၊ ကောင်းမြတ် ကုမ္ပဏီ လီမိတက် အမည်ဖြင့် (၁-၁၂-၂၀၁၆) ရက်နေ့အထိ ၁၂၄,၅၉၃,၃၃၃.၉၆ ကျပ် ရှိကြောင်း တင်ပြထားပါသည်။<br>- သစ်ကုန်ကြမ်းများ စဉ်ဆက်မပြတ် ရရှိရေးအတွက် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ တောင်ငူမြို့နယ်၊ သံတောင်ကြိုးဝိုင်းရှိ ပုဂ္ဂလိက သစ်စိုက်ခင်း ၅ ဧကတွင် ပျဉ်းကတိုးစိုက်ပျိုးရန် ကောင်းမြတ် ကုမ္ပဏီလီမိတက် နှင့် သစ်တောဦးစီးဌာနတို့ ချုပ်ဆိုထားသော မြေငှား စာချုပ် မိတ္တူ၊ စိုက်ခင်း တည်နေရာပြ မြေပုံတို့ကို တင်ပြထားပါသည်။<br>- ရေရှည်တွင်သစ် ကုန်ကြမ်းအလုံအလောက် ရရှိနိုင်ရေးအတွက် ကုမ္ပဏီ၏ ကုန်ကျစရိတ်ဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ တိုက်ကြီးမြို့နယ်၊ ဖလုံ (၂)နယ်မြေတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ စိုက်ပျိုးထားသော သစ်တောစိုက်ခင်း (၁၀၀) ဧကတွင် ၂၀၁၁ ခုနှစ်မှ စ၍ ဆက်လက် စိုက်ပျိုးထားပါကြောင်းနှင့် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ ရေတာရှည်မြို့နယ်တွင် ဝန်ကြီးဌာနပိုင် စိုက်ခင်း(၄၀၃) ဧကတွင် ကုမ္ပဏီ၏ ကုန်ကျစရိတ်ဖြင့် ဆက်လက် စိုက်ပျိုးလျက်ရှိပါကြောင်း နှင့် ပုဂ္ဂလိက ကျွန်းစိုက်ခင်း (၂၉၇) ဧကအား စိုက်ပျိုးနိုင်ရန် ဆောင်ရွက်လျက် ရှိပါကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၆။ | **စိစစ်တင်ပြချက်** | - ထို့ပြင် သစ်ကုန်ကြမ်းရရှိမှု နှင့်စပ်လျဉ်း၍ အိတ်ဖွင့်တင်ဒါများ ယှဉ်ပြိုင်ဝယ်ယူ သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဈ၊ ည၊ ဋ)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ မ-၂၅၂/၂၀၁၅( ၂၄၁ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မတ်လ ၇ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်

## အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Myat Co., Ltd. မှ သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်း ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ကောင်းမြတ်ကုမ္ပဏီလီမိတက် (Kaung Myat Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) မြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ် ၁၃၁၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃ရှိ မြေဧရိယာ (၂.၇၆၁) ဧကအား ငှားရမ်း၍ သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်မောင်မြင့် (အဘ-ဦးစိန်ဝင်း)မှ အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။ အဆိုပါ အဆိုပြုလွှာကို ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၁၀ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ကောင်းမြတ်ကုမ္ပဏီလီမိတက် (Kaung Myat Co., Ltd.) နှင့် မြေပိုင်ရှင် ဦးမောင်မောင်မြင့် တို့ကြားချုပ်ဆိုမည့် မြေ ငှားရမ်းစာချုပ် (မူကြမ်း)၊ မြေအထောက်အထားနှင့် Layout Plan တို့ကိုတင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ စက်မှု ဇုန်၊ မြေကွက်အမှတ် ၁၃၁၊ မြေတိုင်းရပ်ကွက်အမှတ် ၁၁၃ရှိ မြေဧရိယာ ၂.၇၆၁ ဧက (၁၁၁၇၃.၃၈၁ စတုရန်းမီတာ)အတွက် တစ်နှစ်ငှားရမ်းခ ၁၈,၀၀၀,၀၀၀ ကျပ် ရရှိမည်ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေး ကာလ မှာ ၁ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၂.၀၉ သန်း အပါအဝင် စုစုပေါင်း ကျပ် ၂၇၅၀.၀၀ သန်း ဖြစ်ပါသည်။ အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့် ပြည်ပမှ တင်သွင်းမည့်လုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများ တန်ဖိုးမှာ အမေရိကန်ဒေါ်လာ ၆၁,၂၀၀ ဖြစ်ပါသည်။

**ကျပ်/သန်း**

(က) ငွေသား - ၁၀၅.၇၀

(ခ) စက်ပစ္စည်း - ၃၈၇.၄၄ (US$ ၀.၃၁ သန်း)

(ဂ) ကုန်ကြမ်း ၈၈၁.၈၄ (US$ ၀.၇၁ သန်း)

(ဃ) လျှပ်စစ်ပစ္စည်း - ၅၆.၀၀ (US$ ၀.၀၄ သန်း)

(င) အဆောက်အဦ - ၁၂၁၃.၀၀ (US$ ၀.၉၇ သန်း)

(စ) ပရိဘောဂ - ၃၆.၈၇

(ဆ) လုပ်ငန်းသုံးယာဉ် - ၆၉.၁၅ (US$ ၀.၀၆ သန်း အပါအဝင်)

**စုစုပေါင်း - ၂၇၅၀.၀၀ (အမေရိကန် ဒေါ်လာ ၂.၀၉ သန်း အပါ အဝင်)**

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၂၃၀)ဦး နှင့် ပြည်ပ ဝန်ထမ်း(၅) ဦး စုစုပေါင်း (၂၃၅)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၈,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာ မှာUS$ ၁၂၅၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် ပစ္စည်းများကို ပြည်ပသို့ ၉၀% ရောင်းချမည် ဖြစ်ပြီး ပြည်တွင်းတွင် ၁၀%ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းချမှု ဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း (ကျပ် /CBM) |
|---|---|---|---|
| | **ပြည်တွင်းရောင်း ၁၀%** | | |
| (က) | Face Veneer | ၄၈၆၂ | ၉၃၇,၅၀၀ |
| (ခ) | Core Veneer | ၃၉၈ | ၅၆၂,၅၀၀ |

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း (ကျပ် /CBM) |
|---|---|---|---|
| (ဂ) | Teak Veneer | ၁၆၄ | ၆,၁၈၇,၅၀၀ |
| (ဃ) | Plywood | | |
| | - 3.20MM | ၁၁၄ | ၈၉၃,၇၅၀ |
| | - 6 MM | ၇၄ | ၈၈၀,၀၀၀ |
| | - 12 MM | ၇၄ | ၆၈,၅၀၀ |
| | - 19 MM | ၂၃၅ | ၈၉၃,၇၅၀ |
| (င) | Sawn Timber | ၅၄၇ | ၇၈၀,၂၅၀ |

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း (US$/CBM) |
|---|---|---|---|
| | ပြည်ပရောင်း ၉၀% | | |
| (က) | Face Veneer | ၄၃,၇၅၄ | ၈၀၀ |
| (ခ) | Core Veneer | ၃,၅၈၂ | ၆၀၀ |
| (ဂ) | Teak Veneer | ၁,၄၇၈ | ၄၈၀၀ |
| (ဃ) | Plywood | | |
| | - 3.20MM | ၁,၀၂၅ | ၈၈၀ |
| | - 6 MM | ၆၆၃ | ၈၀၀ |
| | - 12 MM | ၆၆၃ | ၇၈၀ |
| | - 19 MM | ၂,၁၁၁ | ၈၀၀ |
| (င) | Sawn Timber | ၄,၉၂၅ | ၇၆၀ |

၈။ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - အမေရိကန်ဒေါ်လာ ၅၆.၉၁ သန်း

(ခ) အသုံးစရိတ် - အမေရိကန်ဒေါ်လာ ၅၆.၀၇ သန်း

(ဂ) အသားတင်အမြတ် - အမေရိကန်ဒေါ်လာ ၀.၈၄ သန်း

၉။ နိုင်ငံတော်မှ ဆင္ဓမဓြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ကုန်သွယ်လုပ်ငန်းခွန် - အမေရိကန်ဒေါ်လာ ၀.၃၇ သန်း

(ခ) ဝင်ငွေခွန် (၂၅%) - အမေရိကန်ဒေါ်လာ ၀.၂၆ သန်း

၁၀။ လုပ်ငန်း ၏ အရင်းကြေကာလမှာ ၅ နှစ် နှင့် ၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၄ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၁။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့** မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-

(၁) Kaung Myat Co., Ltd. မှ သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း နှင့်စပ်လျဉ်း၍ သစ်တောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်၊

(၂) စက်ရုံရှိသစ်ခွဲစက်၊ သစ်ပါးလွှာစက်စသည့် စက်ပစ္စည်းများ တည်ထောင်လည်ပတ် ခွင့်ကို သစ်တောဦးစီးဌာနသို့ တင်ပြခွင့်ပြုချက် ရယူရန်၊

(၃) ရေရှည်ကုန်ကြမ်းရရှိမှု သေချာမှုရှိစေရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိကစိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့် လျှောက်ထား ဆောင်ရွက်ရန်၊

(၄) ရေရှည်ကုန်ကြမ်းရရှိရေး သေချာခိုင်မာစေရန် နှစ်စဉ်ကုန်ကြမ်း လိုအပ်မှုပမာဏ တွက်ချက်ပြီး ပုဂ္ဂလိက သစ်တောစိုက်ခင်း တည်ထောင်ခွင့် အိတ်ဖွင့် တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူရန်၊

(၅) နိုင်ငံပိုင် သစ်တော သယံဇာတအရင်းမြစ်များ ရေရှည်တည်တံ့စွာ ထိန်းသိမ်းနိုင်ရေးအတွက် နိုင်ငံတကာမှ တားမြစ်ခံထားခြင်းမရှိသည့် သစ်မျိုးများတင်သွင်း၍ ကုန်ကြမ်းလိုအပ်ချက်ကို ဖြည့်ဆည်းရန်၊

(၆) အဆိုပြုလုပ်ငန်း သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များကို ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်းနှင့်စပ်လျဉ်း၍ နယ်စပ် ကုန်သွယ်ခွင့် မပြုသည့်အတွက် ထုတ်လုပ်ပြီး အချောထည်များကို ပြည်ပသို့ တင်ပို့မည်ဆိုပါက ရန်ကုန်ဆိပ်ကမ်းမှတစ်ဆင့်သာ တင်ပို့ရမည်ဖြစ်ပြီး ကုမ္ပဏီအနေဖြင့် လိုက်နာဆောင်ရွက်ရန်နှင့် သစ်တောစိုက်ခင်းတည်ထောင်ပြီးစီးမှု အခြေအနေကို ဖော်ပြရန်နှင့် နှစ်အလိုက် စိုက်ပျိုး တည်ထောင်မည့် အစီအစဉ်ဖော်ပြရန်၊

(၇) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ် များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility -CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂)ရာခိုင်နှုန်းအသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များအား တိတိကျကျ လိုက်နာအကောင် အထည်ဖော် ဆောင်ရွက်ရန်၊

(၈) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment- EIA)**ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးဆွဲတင်ပြရန်၊

(၉) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီ

အစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan-EMP)အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ နှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(၁၀) စီမံကိန်း ဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း၊ ပတ်ဝန်း ကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်များ၊ အစီရင်ခံစာ များရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရန်၊

**(နောက်ဆက်တွဲ- ခ)**

**[ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန မှ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။]**

(ဂ) **စက်မှုဝန်ကြီးဌာန**မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထား ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာ ပါသည်။ **(နောက်ဆက်တွဲ-ဂ)**

၁၂။ ငွေကြေး အထောက်အထားအဖြစ် မြဝတီဘဏ်လီမိတက်တွင် ဦးမောင်မောင်မြင့်၊ ဦးကျော်နိုင်ဝင်း၊ ကောင်းမြတ် ကုမ္ပဏီလီမိတက် အမည်ဖြင့် (၁-၁၂-၂၀၁၆) ရက်နေ့အထိ ကျပ် ၁၂၄,၅၉၃,၃၃၃.၉၆ ရှိကြောင်းတင်ပြထားပါသည်။

၁၃။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် နှင့် မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ် များ တင်ပြထားပါသည်။

၁၄။ လူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု (CSR)အတွက် လုပ်ငန်းမှ နှစ်စဉ်ရရှိသည့် အသားတင် အမြတ်ငွေ၏ ၂ % အား သုံးစွဲသွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ည၊ ဋ)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၆။ သစ်ကုန်ကြမ်းများ စဉ်ဆက်မပြတ် ရရှိရေးအတွက် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ တောင်ငူမြို့နယ်၊ သံတောင် ကြိုးဝိုင်းရှိ ပုဂ္ဂလိက သစ်စိုက်ခင်း ၅ ဧကတွင် ပျဉ်းကတိုး စိုက်ပျိုးရန် ကောင်းမြတ် ကုမ္ပဏီလီမိတက် နှင့် သစ်တောဦးစီးဌာနတို့ ချုပ်ဆိုထားသော မြေငှားစာချုပ် မိတ္တူ၊ စိုက်ခင်း တည်နေရာပြ မြေပုံတို့ကို တင်ပြထားပါသည်။ ထို့ပြင် သစ်ကုန်ကြမ်းရရှိရန် အိတ်ဖွင့် တင်ဒါများ ယှဉ်ပြိုင်ဝယ်ယူ သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Myat Company Limited မှ သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ



memo.doc

ပူးတွဲ (က)




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၉. ၁. ၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၂ / မ-၂၅၂/၂၀၁၇(၀၉၇)

၁။ ကောင်းမြတ်ကုမ္ပဏီလီမိတက် (Kaung Myat Co., Ltd.)သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ်-၁၃၁၊ မြေတိုင်းရပ်ကွက်အမှတ်-၁၁၃ ရှိ မြေဧရိယာ (၂. ၇၆၁)ဧကအား ငှားရမ်း၍ သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်း ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၈. ၂. ၂၀၁၇) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၆/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၉)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ကောင်းမြတ်ကုမ္ပဏီလီမိတက် (Kaung Myat Co., Ltd.)
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/6.(11)

MIC, 084/20/1




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁(၃၅/ ၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Kaung Myat Co., Ltd. မှ သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၂/ မ-၂၅၂/ ၂၀၁၇(၀၆၁)

၁။ ကောင်းမြတ်ကုမ္ပဏီလီမိတက် (Kaung Myat Co., Ltd.) သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ်- ၁၃၁၊ မြေတိုင်းရပ်ကွက် အမှတ်- ၁၁၃ ရှိ မြေဧရိယာ ၂.၇၆၁ ဧက (၁၁၁၇၃.၃၇၁ စတုရန်းမီတာ) ကိုငှားရမ်း၍ သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များ လေ့လာတွေ့ရှိရပါသည်-

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုးခြင်းအား (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ပြီး လုပ်ငန်းတည်ဆောက်မည့်ကာလမှာ (၁) နှစ်ခန့် ဖြစ်ကြောင်း၊

(ခ) ဝန်ထမ်းများအတွက် သက်သာချောင်ချိရေးအစီအစဉ်၊ ကျန်းမာရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေး အစီအမံများ ကိုလည်းထည့်သွင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) သစ်တောဦးစီးဌာနနှင့် ကုမ္ပဏီတို့အကြား စိုက်ခင်းတည်ထောင်ခြင်းအတွက် မြေငှားရမ်းခြင်းနှင့် ကျွန်းစိုက်ခင်းများ ပြန်လည်ထူထောင်ခွင့် လျှောက်ထားပြီးဖြစ်ကြောင်း၊

(ဃ) လိုအပ်သော ကုန်ကြမ်းရရှိရေး သေချာခိုင်မာစေရန် တိုက်ကြီးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် (၁၀၀) ဧက၊ ရေတာရှည်မြို့နယ်၊ ပဲခူးတိုင်းဒေသကြီးတွင် (၄၀၃) ဧက၊

တောင်ငူမြို့နယ်၊ ပဲခူးတိုင်းဒေသကြီးတွင် (၅) ဧက၊ စုစုပေါင်း (၅၁၈) ဧကကို ထူထောင်စိုက်ပျိုးလျက်ရှိကြောင်း၊

(င) လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အနေဖြင့် လုပ်ငန်းမှရရှိလာမည့် အသားတင် အမြတ်ငွေ၏ (၂) ရာခိုင်နှုန်းကိုထည့်သွင်းအသုံးပြုသွားမည်ဖြစ်ပြီး ဝန်ထမ်းများအား လုပ်ငန်းခွင်သင်တန်းများ ပို့ချခြင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည် မဖော်မီ သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ရှိ/မရှိ ကြိုတင် ဆန်းစစ်လေ့လာခြင်း (Initial Envrionmental Examination-IEE) ကို ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်းနှင့် စွန့်ပစ်အမှိုက်များနှင့် စပ်လျဉ်း၍ ရန်ကုန်မြို့တော် စည်ပင်သာယာရေးအဖွဲ့နှင့် ချိတ်ဆက်၍ စနစ်တကျ စွန့်ပစ်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သစ်တောဦးစီးဌာနနှင့် မြန်မာ့သစ်လုပ်ငန်းတို့၏ စိစစ်သုံးသပ်မှုနှင့် အကြံပြုချက်များအရ အောက်ဖော်ပြပါကိစ္စရပ်များကို လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည် -

(က) Kaung Myat Co., Ltd. မှ သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ သစ်တောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည် ဖြစ်ကြောင်း၊

(ခ) စက်ရုံရှိ သစ်ခွဲစက်၊ သစ်ပါးလွှာစက်စသည့် စက်ပစ္စည်းများ တည်ထောင်လည်ပတ်ခွင့်ကို သစ်တောဦးစီးဌာနသို့ တင်ပြခွင့်ပြုချက် ရယူရန် လိုအပ်မည် ဖြစ်ကြောင်း၊

(ဂ) ရေရှည်ကုန်ကြမ်းရရှိမှု သေချာမှုရှိစေရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိက စိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့်ကို လျှောက်ထားပြီး ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ကြောင်း၊

(ဃ) ရေရှည် ကုန်ကြမ်းရရှိရေး သေချာခိုင်မာစေရန် နှစ်စဉ်ကုန်ကြမ်းလိုအပ်မှု ပမာဏတွက်ချက်ပြီးပုဂ္ဂလိက သစ်တောစိုက်ခင်းတည်ထောင်ခွင့် အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်မည် ဖြစ်ကြောင်း၊

(င) နိုင်ငံပိုင်သစ်တော သယံဇာတအရင်းအမြစ်များ ရွေတာနိုင်ရေးအတွက် နိုင်ငံတကာမှ တားမြစ်ခံထားခြင်းမရှိသည့် သစ်မျိုးများတင်သွင်း၍ ကုန်ကြမ်းလိုအပ်ချက်ကို ဖြည့်ဆည်းရန် လိုအပ်မည် ဖြစ်ပါကြောင်း၊

၄။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Kaung Myat Co., Ltd. မှ သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် ဓါတုပစ္စည်းများနှင့်ကော်များကို အသုံးပြုဆောင်ရွက်ရသဖြင့် ကုန်ကြမ်းများ သိုလှောင်ခြင်း၊ လုပ်ငန်းအဆင့်ဆင့်မှထွက်ရှိသည့် စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည်များ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင် ရေထု၊ လေထု၊ မြေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင် ခြင်း၊

(ခ) စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာမည့် အမှုန်၊ အမွှားများ၊ ဆူညံသံများကြောင့် လေထုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်ပြီး စက်ရုံဧရိယာပတ်ဝန်းကျင်ရှိ ပြည်သူများအား ကျန်းမာရေးထိခိုက်စေခြင်း၊

(ဂ) သစ်လုံးများခွဲစိတ်ရာတွင် လွှများ၊ အခြားစက်ကိရိယာ ပစ္စည်းများအား စနစ်တကျတပ်ဆင်ခြင်း၊ ကိုင်တွယ်အသုံးပြုခြင်းမရှိပါက အလုပ်သမားများမတော်တဆ ဘေးအန္တရာယ်ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဃ) စွန့်ပစ်ပစ္စည်းများကို စနစ်တကျ စီမံခန့်ခွဲမှုမရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်၊

(င) သစ်ခွဲစက်မှထွက်ရှိမည့် လွှစာမှုန့်များ၊ သစ်ဖြတ်စများကြောင့် မီးဘေးအန္တရာယ် ဖြစ်ပေါ်နိုင်ခြင်း။

၅။ သို့ဖြစ်ပါ၍ Kaung Myat Co., Ltd. မှ သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်း သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များကို ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ နယ်စပ်ကုန်သွယ်ခွင့် မပြုသည့်အတွက်ထုတ်လုပ်ပြီး အချောထည်များကို ပြည်ပသို့တင်ပို့မည်ဆိုပါက ရန်ကုန်ဆိပ်ကမ်းမှ

တစ်ဆင့်သာ တင်ပို့ရမည်ဖြစ်ပြီး ကုမ္ပဏီအနေဖြင့် လိုက်နာဆောင်ရွက်ရန်နှင့် သစ်တော စိုက်ခင်းတည်ထောင်ပြီးစီးမှု အခြေအနေကို ဖော်ပြရန်နှင့် နှစ်အလိုက် စိုက်ပျိုးတည်ထောင် မည့်အစီအစဉ်ဖော်ပြရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေး ဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂) ရာခိုင်နှုန်း အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွား မည့်ကတိကဝတ်များအား တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဂ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးမထိခိုက်စေရေး (သို့မဟုတ်) ထိ ခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးဆွဲ တင်ပြရန်။

(ဃ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး မည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအ တွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ် ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံ ချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(င) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသား ပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်း ဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ် ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့်

လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(စ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

MIC 1 04? / 1/8

ရင်းနှီးတွဲ-(ဂ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

NPF-407
31.1.2017

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၈၄၁)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၃၀ ရက်

သို့

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉.၁.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၂/ မ-၂၅၂ / ၂၀၁၇(၀၉၈)

၁။ ကောင်းမြတ်ကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ်(၁၃၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၁၃)တွင် သစ်ပါးလွှာ၊ အထပ်သား နှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါ သည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဂ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) အသားလွှာခြင်း၊ ကော်ကပ်ခြင်း၊ အထပ်သားအဖြစ်ထုတ်လုပ်ခြင်း၊ ပြည့်စုံစွာပါဝင်ပါသဖြင့် အဆင့်မြင့်ထုတ်လုပ်မှု (Value Added) ကုန်ထုတ်လုပ်ငန်းဖြစ်၍ အလုပ်အကိုင်အခွင့်အလမ်းများရရှိပါသည်။

၃။ သို့ပါ၍ ကောင်းမြတ်ကုမ္ပဏီလီမိတက်မှ သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

၃၀.၁.၂၀၁၇

ပြည်ထောင်စုဝန်ကြီး( ကိုယ်စား )
( သန်းသန်းလွင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
- ရုံးလက်ခံ